بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

﴿سُبۡحَٰنَ ٱلَّذِيٓ أَسۡرَىٰ بِعَبۡدِهِۦ لَيۡلٗا مِّنَ ٱلۡمَسۡجِدِ ٱلۡحَرَامِ إِلَى ٱلۡمَسۡجِدِ ٱلۡأَقۡصَا ٱلَّذِي بَٰرَكۡنَا حَوۡلَهُۥ لِنُرِيَهُۥ مِنۡ ءَايَٰتِنَآۚ إِنَّهُۥ هُوَ ٱلسَّمِيعُ ٱلۡبَصِيرُ﴾ [الإسراء: 1]

အချက် ၅ ချက်ကို အဓိကထားပြီး တင်ပြပါမယ်။

**၁။** မေ့အ်ရားဂ်ျကောင်းကင်ခရီးဖြစ်လာရသည့် ရည်ရွယ်ချက်၊ ထိုဖြစ်စဉ်က ဘာကို ရည်ညွှန်းနေသနည်း။

ဒီစူရာဟ်ရဲ့အစမှာတွင်ပင် အစ္စရာအ်အကြောင်းကို "စုဗ်ဟားန်"ဟူသော

စကားလုံးဖြင့် ဖွင့်ထားသည်။ ဒီစကားလုံးကို အလ္လာဟ်နဲ့ပတ်သက်ပြီး ဘယ်လိုနေရာမှာ ဖော်ပြတတ်လဲဆိုရင် - သဘောပေါက်လွဲမှားမှု၊ သို့မဟုတ် မကောင်းထင်မြင်ချက် - ဒီနှစ်ခုကို ပြန်လည်ချေပတုန့်ပြန်သည့် နေရာမှာ သုံးပါသည်။

**(က)**

سبحان + إنه هو السميع البصير

အစ္စရားအ်ဖြစ်စဉ်အတွက် ဒီစကားလုံးနဲ့ နိဒါန်းပျိုးထားတာကလည်း အလ္လာဟ်နဲ့ ပတ်သက်ပြီး ယဟူဒ်နဲ့မုရှ်ရိက်တွေရဲ့ ကြီးမားသော မကောင်းထင်မြင်ချက်တစ်ခုကို ချေပတုန့်ပြန်ဖို့ရှိလို့ပဲ ဖြစ်တယ်။

အစ်ဗ်ရာဟီးမ်တမန်တော်သည် ဘာဘီလုံမှ စွန့်ခွာပြောင်းရွှေ့သွားတဲ့အချိန် အလ္လာဟ် အရှင်မြတ်က နေရာနှစ်ခုကို ရွေးချယ်တော်မူခဲ့တယ်။ အရှင်မြတ်ရဲ့ အမိန့်နဲ့ပဲ ထိုနေရာ နှစ်ခုမှာ မတ်စ်ဂျစ်အိမ်တော်တည်ဆောက်စေပြီး ဒအ်ဝသ်ဖိတ်ခေါ်မှုရဲ့ မရ်ကတ်ဇ်ဗဟို

စင်တာအဖြစ် သတ်မှတ်လိုက်တယ်။ တစ်အိမ်က ချောက်သွေ့တဲ့ အရဗ်ဒေသမှာဖြစ်ပြီး နောက်တစ်အိမ်က စိမ်းလန်းစိုပြေတဲ့ အရပ်၊ ပါလက်စတိုင်းမှာ ဖြစ်ပါတယ်။

အထက်က ယဟူးဒ်နဲ့ကုရိုင်းရှ်တို့အုပ်စု နှစ်စုစလုံးဟာ အလ္လာ့ဟ်သာသနာရဲ့ အကြီးဆုံး မရ်ကတ်ဇ် ဗဟိုစင်တာနှစ်ခုကို ထိန်းချုပ်ထားကြတယ်။ သူတို့ဟာ ဒီကျောင်းတော်တွေရဲ့ အခြေခံရည်ရွယ်ချက်တွေနဲ့ လုံးဝဆန့်ကျင်ပြီး အိမ်တော်ကို ရုပ်တုဆင်းတုနဲ့ ရှိရ်က်ရဲ့ အသိုက်အမြုလုပ်ထားရုံမကဘူး။ ခရစ်တော်အီဆာ၏ စကားလိုပြောရမယ်ဆိုရင်

" သင်တို့ဟာ ငါ့အဖေရဲ့အိမ်တော်ကို သူခိုးဂျပိုးတွေရဲ့အသိုက်လုပ်ထားကြတာပဲ"

( تدبر القرآن للإمام أمين أحسن الإصلاحي )

သူတို့ဟာ သူခိုးဂျပိုးနှင့် သစ္စာမဲ့တွေရဲ့ အသိုက်လုပ်ထားကြတယ်။ ဒီအိမ်တော်နှစ်ခုစလုံးဟာ သူခိုးတွေ၊ သစ္စာမဲ့တွေရဲ့ လက်အောက်မှာ ဖြစ်ချင်တိုင်း ဖြစ်နေကြတယ်။

( မတ်စ်ဂျစ်အက္ကစ္စာရဲ့ အခြေအနေကိုတော့ အီဆာနဗီရဲ့စကားနဲ့တင် ခန့်မှန်းလို့ရတယ်။ မတ်စ်ဂျစ်ဟရမ်ရဲ့ အခြေအနေကို ခန့်မှန်းချင်ရင်တော့ အိမာမ်ဖရာဟီးရဲ့ စူရဟ်လဟဗ် သဖ်စီးရ်ကျမ်းကိုသာ တစ်ချက်ကြည့်လိုက်ပါ။ ဟရမ်ထဲမှာ အဗူလဟဗ် ဘယ်လို သောင်းကျန်းပြီး ပေါက်လွတ်ပဲစားအလုပ်တွေ လုပ်နေလဲဆိုတာကို ခန့်မှန်းလို့ရပါတယ်။)

ကျောင်းတော်ထဲမှာ သူတို့လုပ်ချင်ရာလုပ်၊ ဖြစ်ချင်တိုင်းဖြစ်နေတာဟာ မသိရင် အိမ်တော်ရဲ့အရှင်အစစ်က နားထဲဆီထည့်၊ မျက်လုံးပတ်တီးစည်းပြီး အအိပ်ကြီးနေတယ် ဘယ်တော့မှထပြီး သူတို့ကို မကိုင်တွယ်တော့မယ့်အတိုင်းပဲ။

မေ့အ်ရားဂ်ျဖြစ်စဉ်က အခုဒီကျောင်းတော်နှစ်ခုစလုံးရဲ့ အမာနသ်တာဝန်ကို စတင် တည်ဆောက်ခဲ့တဲ့ နဂိုရည်ရွယ်ချက်အတိုင်း ပြန်လုပ်မယ့်သူကို ပေးဖို့ရှိကြောင်း

နိဒါန်းပျိုးလိုက်တာပဲ ဖြစ်တယ်။ ဒါကြောင့် "စုဗ်ဟာန်"ဆိုတဲ့ စကားလုံးနဲ့ စတင်ပြီး ပြောထားတာဖြစ်တယ်။

ပြီးတော့ အာယတ်ကို إنه هو السميع البصير ဆိုပြီး မိမိဂုဏ်တော်နဲ့ အဆုံးသတ်ထားတာဟာ "အလ္လာဟ်ကို မကြားတဲ့၊ မမြင်တဲ့အရှင်လို့ သဘောပိုက်ပြီး နေကြတဲ့သူတွေ... အခုသင်တို့နားတွေ ဖွင့်ထားကြတော့၊ သင်တို့မျက်လုံးတွေ ဖွင့်ထားကြတော့၊ ယခု တရားရုံးတက်ရမယ့်အချိန် ရောက်ပြီ၊ အစစ်အမှန် سميع بصير အကြွင်းမဲ့ သိမြင်ကြားတော်မူသော ဘုရားသခင် အလ္လာဟ်က မိမိရဲ့ပြည့်ဝတဲ့ အသိဉာဏ်တော် ၊ သတင်းအချက်အလက်တို့ဖြင့် တရားမျှတမှုကို ဖော်ဆောင်တော်မူတော့မယ်" ဆိုတာကို ထင်ရှားသွားစေပါတယ်။

**(ခ)**

أسرى بعبده ليلا

အစ္စရာအ်အဓိပ္ပာယ်က ညမှာခရီးသွားခြင်းဖြစ်တယ်။ ب ဆိုတဲ့ ပစ္စည်းတွဲလိုက်တော့ متعدي ဖြစ်ပြီး ညမှာ တစ်ဦးတစ်ယောက်ကို တစ်နေရာသို့ ခရီးခေါ်ဆောင်သွားခြင်း၏ အဓိပ္ပာယ်ဖြစ်သွားတယ်။ ဒီစကားလုံးရဲ့ အနက်သဘောမှာကိုက ညအချိန်လည်း အလိုလိုပါနေတယ်။ ဒါပေမယ့်လည်း တစ်ခါတစ်ရံ ဒီစကားလုံးက ညအချိန်ရဲ့ အနက်သဘော ကင်းမဲ့သွားတာလည်း ရှိတယ်။ ဒါကြောင့် ليلا ဆိုတဲ့ قيد ကန့်သတ်ချက်က ဒီမေ့အ်ရာဂ်ျသည် ညပိုင်းမှာဖြစ်ခဲ့ကြောင်း လေးနက်စေရန်အတွက် ဖြစ်တယ်။

**(ဂ)**

بعبده

မှာရှိတဲ့ عبد က တမန်တော်မုဟမ္မဒ်(ဆွ) ဖြစ်တယ်။ ဒီစကားလုံးကို တမန်တော်အတွက် ရွေးချယ်ရတာက တမန်တော်သည် အလ္လာဟ်နှင့် အထူးပင် သီးသန့်ဖြစ်ကြောင်း၊ အလ္လာဟ်ကို အဆုံးအစွန်ချစ်ပြီး ကိုယ်တော့်ရဲ့ ပြည့်ဝတဲ့ ကျွန်ပီသမှုတို့ကို ညွှန်ပြလိုခြင်း ဖြစ်သည်။ တစ်နည်းပြောရလျှင် တမန်တော်သည် မိတ်ဆက်ပေးစရာမလိုသော ပုဂ္ဂိုလ် ဖြစ်သည်။ عبد ဆိုတဲ့ စကားလုံးကပင်လျှင် ဘုရားဂုဏ်တို့ကနေ တမန်တော်ကို သီခြားဆွဲထုတ်လိုက်ပြီး ဘုရားကျွန်ဆိုတဲ့ တကယ့်အစစ်အမှန် သရုပ်သကန်ကို ပေါ်စေပါတယ်။

**(ဃ)**

من المسجد الحرام إلى المسجد الأقصا الذي باركنا حوله

မတ်စ်ဂျစ်ဟရာမ်ဆိုတာကတော့ ကအ်ဗဟ်ကျောင်းတော်ဖြစ်ကြောင်း ထင်ရှားတယ်။ နောက်ထက် ကျောင်းတော်တစ်ခုကိုတော့ သူ့ရဲ့ ဝိသေသနှစ်ခုနဲ့ မိတ်ဆပ်ပေးထားတယ်။ တစ်ခုက ، الأقصىနောက်တစ်ခုက الذي باركنا حوله ဖြစ်တယ်။ "အက္ကစ္စာ"ရဲ့ အဓိပ္ပာယ်က ဝေးသောအရာပါ။ ဒီကျောင်းတော်က ကုရ်အာန်ရဲ့ ပထမဦးဆုံး ဆိုဆုံးမမှုများကို ခံခဲ့ကြရတဲ့ ၊ မက္ကာဟ်မြို့ မတ်စ်ဂျစ်ဟရာမ်ပရဝဏ်မှာ နေကြတဲ့ သူတွေနဲ့ဆို အဲ့တုန်းက ရက်ပေါင်း ၄၀ လောက်သွားရတဲ့ အကွာအဝေး ဂျေရုစလင်မှာ ရှိပါတယ်။ ဒါကြောင့် အဲဒီဘက်ကို အလွယ်တကူအသိအာရုံ ရောက်နိုင်ဖို့အတွက် အက္ကစ္စာဆိုတဲ့ ဝိသေသကို သုံးလိုက်တာဖြစ်တယ်။ الذي باركنا حوله ဆိုတဲ့ ဝိသေသနဲ့ အထူးပြုပြီး ဒီကျောင်းတော်ရှိရာအရပ်ကို ရည်ညွှန်းလိုက်တာက အဲဒီအရပ်ဒေသရဲ့ ရုပ်ပိုင်းနမ်ပိုင်း နှစ်ခုစလုံးရဲ့ စိမ်းလန်းစိုပြေ သာယာဝပြောမှုကို ရည်ညွှန်းခြင်း ဖြစ်ပါတယ်။ ရှေးကျမ်းတွေမှာ ဒီအရပ်ဒေသရဲ့မြေကို ပျားရည်မြေ၊ နို့မြေလို့လည်း ပြောထားတယ်။ ဒါက ထိုအရပ်ဒေသရဲ့ အလွန်စိမ်းလန်းစိုပြေသာယာမှုကို ပြောခြင်းဖြစ်တယ်။

ထိုအရပ်ဒေသမှာ နဗီတမန်တော်တွေမွေးခဲ့၊ သေဆုံးခဲ့သလောက် အခြားအရပ်ဒေသမှာ မရှိခဲ့ပါဘူး။ ဒီတစ်ခုနဲ့တင် ထိုအရပ်ဒေသရဲ့ နာမ်ပိုင်း ဝိညာဉ်ပိုင်းဆိုင်ရာ ဗရကရည် မင်္ဂလာတွေကို ခန့်မှန်းလို့ ရပါတယ်။

**(၈)**

لنريه من آياتنا

ဒါက ခရီးခေါ်ဆောင်သွားရခြင်းရဲ့ အကြောင်းရင်းဖြစ်တယ်။ အရှင်မြတ်က မိမိကျွန်ကို သက်သေလက္ခဏာတချို့ပြလိုတဲ့အတွက်ကြောင့် ဖြစ်တယ်။

ဖော်ပြပုံ ရသမြောက်ချက်တစ်ခုကတော့ အပေါ်မှာကြိယာသည် "ဂါအစ်ဗ်" ပုံစံရှိခဲ့သည် အဲဒါက ကြီးကျယ်ခမ်းနားမှုကို ညွှန်ပြတဲ့ ကြိယာပုံစံဖြစ်တယ်။ အခုဒီမှာ "صيغة متكلم"ကို ပြောင်းသွားတယ်။ ဒါက အထူးအာရုံပြုမှုကို ပေါ်လွင်စေတယ်။

အမိန့်ရှိပုံက ဒီလိုပါ။

"ငါအရှင်က ဒီခရီးစဉ်ကို ခေါ်ဆောင်စေတာဟာ မိမိကျွန်ကို မိမိ၏ သက်သေလက္ခဏာ တချို့ပြသဖို့အတွက် ဖြစ်တယ်။"

အဲဒီသက်သေလက္ခဏာတွေက ဘာတွေလဲဆိုတာ ဒီမှာ ဖော်ပြမထားပါဘူး။

ဒါပေမယ့် ထိုအိမ်တော်နှစ်ခုမှာ သိုက်သိုက်မြိုက်မြိုက် ရှိခဲ့တဲ့ သက်ရောက်မှုတွေ၊ မြင်ကွင်းတွေ၊ မင်္ဂလာအပေါင်းနဲ့ နူရ်ရောင်ခြည်တော်တွေဖြစ်ကြောင်း قرينة က ညွှန်နေပါတယ်။ ဒါတွေ ပြရတဲ့ အနီးစပ်ဆုံး ရည်ရွယ်ချက်ကတော့ ဒီသစ္စာတရား တာဝန်တွေကို မထိုက်တန်တဲ့ သစ္စာဖောက်တွေရဲ့ လက်ထဲကနေ လုယူပြီးနောက် သင့်ထံလွှဲပြောင်းခြင်းခံရတော့မည်ဆိုတဲ့ အလ္လာဟ်သဘောဆန္ဒကို တမန်တော်အား သိစေချင်လို့သာ ဖြစ်တယ်။ တစ်နည်းအားဖြင့် ဒအ်ဝသ်ဖိတ်ခေါ်မှု၏ ဤအခက်ခဲဆုံး ကာလမျိုးမှာ အလ္လာဟ်ဘက်က တမန်တော့်ကို ကူညီစောင်မတော်မူမည့်သတင်းကောင်း

ပေးနေသလိုပါပဲ။ မေ့အ်ရားဂျ်၏ ဤခရီးစဉ်က ထိုအတွက် ပို၍သေချာစေသော တံဆိတ်တစ်ခု ဖြစ်တယ်။ ဖြစ်ပျက်လာမည့်အရာများကိုလည်း တမန်တော်အား အလ္လာဟ်က ပြသတော်မူခဲ့တယ်။

**၂။** ကောင်းကင်ခရီးက ခန္ဓာနဲ့လား၊ အိပ်မက်ထဲမှာလား။

မေးစရာတစ်ခုကျန်တာက ဒီခရီးစဉ်ဟာ ခန္ဓာကိုယ်နဲ့ နိုးကြားစွာ ဖြစ်ခဲ့တာလား၊ ဒါမှမဟုတ် အိပ်မက်ထဲမှာလားပေါ့။

ဒီအဖြေကိုတော့ ရှေ့ဆက်ပြီး အဲဒီစူရဟ်ထဲမှာပဲ ကုရ်အာန်ကိုယ်တိုင်က ပေးထားပါတယ်။ အမိန့်ရှိတယ်။

وما جعلنا الرؤيا التي أرينك إلا فتنة للناس

"ငါအရှင် သင့်အား ပြသခဲ့တဲ့ အိပ်မက်ကို ငါအရှင်က လူတွေအတွက် စမ်းသပ်မှု တစ်ရပ်အဖြစ်သာ ပြုလုပ်တော်မူခဲ့သည်။"

ဒီအိပ်မက်ထဲမှာ ကုရိုင်းရှ်အတွက်ရော ဗနီအစ္စရာအီးလ်အတွက်ရော သတိပေးချက် ပါရှိသော်လည်း သူတို့ရဲ့ အကျင့်ဟောင်းအတိုင်းပဲ သူတို့ဟာ အကျိုးမခံစား၊ အမြတ်မထုတ်ယူဘဲ အားလုံးက အမျိုးမျိုး လှောင်ပြောင်ကြလေတော့တယ်။

သူတို့ရဲ့ အနာဂတ်နဲ့ပတ်သက်ပြီး သူတို့ကို သတိပေးဖို့၊ ဆင်ခြင်ဖို့ ပြလိုက်တဲ့ သက်သေလက္ခဏာတွေက သူတို့ရဲ့ အသုံးမကျမှုကြောင့် သူတို့အတွက် ဖိသ်နဟ် စမ်းသပ်မှုဖြစ်လို့သွားတယ်။

ဒီအာယတ်တော်မှာ ရည်ညွှန်းတဲ့ အိပ်မက်ဆိုတာ စူရဟ်အစမှာ

لنريه من آياتنا

ဆိုတဲ့ စကားလုံးတွေနဲ့ ဖော်ပြထားတဲ့ အိပ်မက်ကိုပဲ ပြောပါတယ်။ တခြားအိပ်မက်ကို အလိုသဘောကောက်ယူဖို့ စာသွားစာလာအရ မဖြစ်နိုင်ပါဘူး။ ဒီအိပ်မက်လို့ သဘောကောက်ယူရုံမှတစ်ပါး အခြားရွေးစရာမရှိတော့ပါဘူး။

( ٹءا را -အိရာအဟ်)

ဆိုတဲ့ စကားလုံးကို ကုရ်အာန်မှာ အိပ်မက်ထဲမှာ ပြသတဲ့ အဓိပ္ပာယ်နဲ့ သုံးနှုန်းထားတာ အများကြီးရှိပါတယ်။ သဖ်စီးရ်လုပ် အကျယ်ဖွင့်တဲ့သူတွေက “လိနုရိယဟူး” မှာ အလ္လာဟ်ပြခဲ့တဲ့ အရာကိုပဲ ဒီမှာဆိုလိုကြောင်းကိုလည်း သဘောကောက်ယူ ထားကြပါတယ်။ ဒါကြောင့် ပြသခဲ့တာတွေက အိပ်မက်ထဲမှာ ဖြစ်ကြောင်း သူ့နေရာနဲ့သူ ရှင်းပြီး လက်ခံနိုင်တဲ့အရာလည်း ဖြစ်ပါတယ်။ ဒါပေမယ့် သတိထားရမှာက အိပ်ရင်းမက်တဲ့ အိပ်မက်တိုင်းက မှန်တယ်ဆိုတာမရှိပါဘူး။ ဒါပေမယ့် နဗီတမန်တော်တွေကို အလ္လာဟ်ပြတဲ့ အိပ်မက်ကတော့ မှားတယ်ဆိုတာမရှိပါဘူး။ အဲဒါကို “ရုအ်ယာစွာဒိကာဟ်” မလွဲမှားတတ်တဲ့ စစ်မှန်တဲ့ အိပ်မက်လို့ ခေါ်ပါတယ်။

**၃။** နဗီတမန်တော်တွေရဲ့ အိပ်မက်နဲ့ သာမန်လူတွေရဲ့ အိပ်မက်မှာ ကွာခြားချက်။

နဗီတမန်တော်တွေ မြင်မက်တဲ့ ရုအ်ယာစွာဒိကဟ် (မှန်ကန်တဲ့အိပ်မက်)ရဲ့ ထူးခြားကွာခြားတဲ့ အချက်တချို့ကိုတော့ ခေါင်းထဲထည့်ထားဖို့ လိုလိမ့်မယ်။

- ပထမ

အချက်ကတော့ “ရုအ်ယာစွာဒိကဟ်”သည် တမန်တော်တွေ အလ္လာဟ်ထံပါမှ ဝဟီ ရရှိသည့်ပုံစံတွေ၊ ကြားခံတွေထဲက တစ်ခုသာဖြစ်ပါတယ်။ အလ္လာဟ်အရှင်မြတ်က မိမိရဲ့ နဗီတွေ၊ ရစူလ်တမန်တော်တွေကို ကောင်းကင်တမန်ကြားခံဖြင့် ဝဟီချပေးသကဲ့သို့

တစ်ခါတစ်ရံ "ရှအ်ယာစွာဒိကဟ်" မှန်ကန်သည့်အိပ်မက်မှတစ်ဆင့်လည်း လမ်းညွှန်ပါတယ်။

- ဒုတိယ

အချက်က ဒီအိပ်မက်သည် အလွန်ရှင်းလင်းပြီး၊ မသဲမကွဲမဟုတ်ဘဲ လင်းလင်းထင်းထင်းပုံစံနဲ့ كفلق الصبح ဖြစ်တယ်။ အဲဒီပေါ်မှာ နဗီက အပြည့်အဝရင်ထဲက လက်ခံနိုင်မှုနဲ့ နှလုံးအေးချမ်းမှုတို့ကို ရရှိတယ်။ အကယ်၍ တစ်စုံတရာက အဲဒီအိပ်မက်မှာ ပုံဆောင်ချက်အရောင်အဆင်းနဲ့ ဖြစ်မယ်ဆိုရင်တောင် အဲဒါရဲ့ တိတ္ထုံ အိပ်မက်သဘောတရားကို အလ္လာဟ်က မိမိနဗီကို ရှင်းပြတော်မူပါတယ်။

- တတိယ

အချက်က ဖြစ်စဉ်သမိုင်းတွေ၊ ဓမ္မစစ်သဘောတရားတွေကို ပြသလိုတဲ့အခါ ရှအ်ယာစွာဒိကဟ်သည် နဗီအတွက် ပိုပြီးစိတ်ကျေနပ်မှုကို ပေးပါသည်။ ဘာကြောင့်ဆို ဖြစ်စဉ် တစ်ခုလုံးရဲ့ အသေးစိတ်ကိုရှုမြင်နိုင်တယ်။စကားလုံးတွေနဲ့ ချုပ်ကိုင်ဖို့ ခက်ခဲတဲ့ အနက်သဘောတရားတွေ၊ နာမ်ပိုင်းဆိုင်ရာတွေလည်း ရှေ့မှာ သရုပ်ပေါ်လာတယ်။

**၄။** ခေါင်းရဲ့မျက်စိနဲ့မဟုတ်ဘဲ အိပ်မက်ထဲမှာ မေ့အ်ရားဂျ်ဘာကြောင့်ဖြစ်ရသလဲ။

- စတုတ္ထ

အချက်က အိပ်မက်ထဲမှာ ရှုမြင်ခြင်းဟာ ခေါင်းကမျက်စိနဲ့ ရှုမြင်တာထက် ပိုသေချာတယ်။ ပိုကျယ်ဝန်းတယ်။ အဆင့်ထောင်ပေါင်းများစွာ ပိုပြီး နက်ရှိုင်း၊ ပိုပြီးရှေ့ကို စူးရောက်တယ်။ မျက်စိက မှောက်မှားတတ်တယ်။ ဒါပေမယ့် "ရုအ်ယာစ္စာဒိကဟ်"က အမှားကျရောက်ခြင်းကနေ ကင်းတယ်။ မျက်စိက အတိုင်းအတာ တစ်ခုတည်းမှာပဲ ကြည့်နိုင်တယ်။ ဒါပေမယ့် အိပ်မက်က တစ်ချိန်တည်းမှာ အလွန်ကျယ်ဝန်းတဲ့ အတိုင်းအတာကို ဝန်းခြုံမြင်နိုင်တယ်။ မျက်စိက အနက်သဘော တရားတွေ၊ နာမ်ပိုင်းဆိုင်ရာတွေကို မမြင်နိုင်ဘူး။ မျက်စိရဲ့အရှုကို မြင်ရတဲ့ဟာတွေနဲ့သာ ဘောင်ခက်ထားတယ်။ ဒါပေမယ့် အိပ်မက်ထဲမှာတော့ ဓမ္မစစ်အနက်သဘောတရားတွေ၊ နာမ်ပိုင်းဆိုင်ရာတွေ၊ နူရ်လင်းရောင်ခြည်နဲ့ သဂျလ္လီတန်ခိုးရောင်ခြည်တွေကိုပါ မိမိရရ သိမြင်နိုင်တယ်။

တမန်တော်မူစာက အလ္လာဟ်ကို မြင်ချင်ခဲ့တယ်။ ဒါပေမယ့် သူ့မျက်စိက အဲဒီဒဏ်ကို မခံနိုင်ခဲ့ဘူး။ အဲဒါနဲ့ဆန့်ကျင်ဘက် ကျွန်တော်တို့၏ မြတ်နဗီကျတော့ မေ့အ်ရာဂ်ျညမှာ ပြသခြင်းခံရတဲ့အရာအားလုံးကို မျက်စိတစ်ချက်ကလေးမှ မမှောက်မှားဘဲ ကြည့်ရှုတော်မူခဲ့တယ်။

ဒါကတော့ ကုရ်အာန်က ပြောတဲ့ မေ့အ်ရာဂ်ျပါ။

မေ့အ်ရာဂ်ျညမှာ ဖြစ်ခဲ့တဲ့ တခြားအသေးစိတ်တွေက ရိဝါယသ်တွေမှာလည်း တွေ့ရပါတယ်။ ဒါပေမယ့် ရိဝါယသ်နဲ့ပတ်သက်လို့တော့ ဒီနေရာမှာ ဗုခါရီရဲ့ ဆင့်ပြန်ချက်တစ်ခုကို တင်ပြရင် လုံလောက်ပြီလို့ ထင်ပါတယ်။ အဲဒီဆင့်ပြန်ချက်က လည်း မေ့အ်ရာဂ်ျခရီးစဉ်အစအဆုံးကို ဖော်ပြထားလေတော့ အတန်ငယ်ရှည်ပါတယ်။ ဒါပေမယ့် ရိဝါယသ်အစနဲ့ အဆုံးပိုင်းကိုပဲ ကျွန်တော်ပြောပြပါမယ်။

ကျွန်တော်ပြောချင်တဲ့ ပွိုင့်ကလည်း အစနဲ့ အဆုံးမှာ ရှိနေပါတယ်။ အရှည်ကိုတော့ စာအုပ်မှာသာ လေ့လာကြည့်ဖို့ ပြောချင်ပါတယ်။

ဗုခါရီကျမ်း ဟဒီးဆ်နံပါတ် ၇၅၁၇ ဖြစ်ပါတယ်။ ဟဒီးဆ်ရဲ့ အစမှာ တမန်တော်ဟာ မတ်စ်ဂျစ်ဟရာမ်မှာ အိပ်စက်နေတဲ့ အချိန် ၊ မျက်လုံးက အိပ်စက်ပြီး နှလုံးသားက နိုးကြားနေတဲ့အချိန် (ဒါမျိုးက နဗီတွေမှာပဲ ရှိပါတယ်။) ကောင်းကင်တမန်တွေ ရောက်လာပြီး တမန်တော့်ရင်ကို ခွဲ၊ ဆေးကြော၊ အမြော်အမြင်တွေထည့် ပြန်ချုပ်ပြီးတော့ မေ့အ်ရာဂ်ျခရီးစဉ်စတာပါပဲ။ လမ်းမှာတွေ့ရခဲ့တဲ့ အဖြစ်အပျက်တွေ တင်ပြတယ်။ ပြီးတော့ ဟဒီးဆ်ရဲ့ အဆုံးစကားလုံးတွေကလည်း ဒီဖြစ်စဉ်ဟာ အိပ်မက်ထဲမှာဖြစ်ကြောင်း ပေါ်လွင်စေပါတယ်။ မရမက တလွဲဖွင့်ဆိုမှုတွေ ရှိသော်ငြားလည်း အဖြစ်မှန်ကို ရှာသူကတော့ အသိမှန်ကို ရစမြဲပါပဲ။ ဟဒီးဆ်ရဲ့နောက်ဆုံးစာသားလေးက

واستيقظ وهو في المسجد الحرام

" ထို့နောက် တမန်တော်သည် မတ်စ်ဂျစ်ဟရာမ်ထဲမှာပဲ နိုးလာသည်။"

ရိဝါယသ်တွေနဲ့ ဆွဟာဗဟ်တွေရဲ့အာဆာရ်တွေထဲမှာ ရှာကြည့်ရင်တော့ အဆိုအမျိုးမျိုး တွေ့ရပါလိမ့်မယ်။ သို့ဖြစ်ရကား ကုရ်အာန်၏ စာသား၊ အသွားအလာ၊ အသုံးအနှုန်း၊ အထားအသိုတို့နဲ့ အကိုက်ညီဆုံး အဆိုတွေသာ လက်ခံခြင်းခံရပါမယ်။

တမန်တော်ကို လက်တွေ့ မေ့အ်ရာဂ်ျ မဖြစ်စေချင်တာ မဟုတ်ဘူး။ ကုရ်အာန်အရလေ့လာကြည့်ရင် အိပ်မက်ထဲမှာဖြစ်ခဲ့ကြောင်းကိုသာ တွေ့ရတာမို့ ထိုအတိုင်းသာ တင်ပြရတာပါ။

အိပ်မက်ထဲမှာဆိုရင် ဘာထူးဆန်းလို့လဲ၊ မုရှ်ရိက်တွေနဲ့ ယဟူဒ်တို့က ခန္ဓာကိုယ်နဲ့ မေ့အ်ရာဂ်ျဖြစ်တာကို လက်မခံကြတာလေလို့ ပြောတဲ့သူတွေလည်း ရှိတယ်။ အမှန်တော့ သူတို့ဟာ အိပ်မက်ထဲမှာ မြင်တာကိုပဲ ဖြစ်ဖြစ်၊ ခန္ဓာကိုယ်နဲ့တကွ

မြင်ခဲ့တာကိုပဲ ဖြစ်ဖြစ်၊ နိုးကြားလျက် နှလုံးသားမျက်စိနဲ့ မြင်ခဲ့တာကိုပဲဖြစ်ဖြစ် လက်မခံကြပါဘူး။ ပြီးတော့ အိပ်မက်နဲ့ပဲ အဖြစ်အပျက်အကြီးကြီးတွေကို ပြသခဲ့တာ နောက်လည်း အများကြီးရှိပါသေးတယ်။ မေ့အ်ရာဂ်ျတစ်ခုတည်း မဟုတ်ပါဘူး။ တစ်ခါတရံ နိုးကြားနေတဲ့အချိန်မျိုးမှာတောင် အလ္လာဟ်က မိမိလက္ခဏာများကို တမန်တော်အား ပြသခဲ့တာတွေ ရှိပါတယ်။ အိပ်မက်ကိုတောင် မယုံနိုင်ရင် အဲလိုအရာမျိုးဆို ပိုတောင်ဝေးပြီပေါ့။

**၅။** ခေါင်းရဲ့ မျက်စိနဲ့လည်း မဟုတ်၊ အိပ်မက်ထဲမှာလည်း မဟုတ်ဘဲ အလ္လာဟ်အရှင်မြတ်က မိမိတမန်တော်တွေကို သက်သေလက္ခဏာတွေ ပြခြင်း။

အလ္လာဟ်က မိမိတမန်တော်တွေကို သက်သေလက္ခဏာတွေ ပုံစံအမျိုးမျိုးနှင့် သူများထက် ထူးကဲစွာ ပြတော်မူလေ့ရှိသည်။ တစ်ခါတစ်ရံ မျက်စိဖြင့်၊ တစ်ခါတစ်ရံ အိပ်မက်ထဲမှာမြင်ရသလို တစ်ခါတလေ မျက်လုံးဖွင့်လျက် နိုးကြားလျက် သက်သေလက္ခဏာတွေကို အလ္လာ့ဟ်ဘက်က ပြသတာလည်း ရှိပါတယ်။ ဥပမာ ဗုခါရီကျမ်း ဟဒီးဆ်နံပါတ် 1212 မှာ ဆင့်ပြန်ချက်တစ်ပုဒ်လာတယ်။ စွလားသ်ဝတ်ပြုနေရင်း တမန်တော်က ရှေ့တိုးပြီး လက်လှမ်းလိုက်၊ နောက်ဆုတ်သွားလိုက် လုပ်တာကို ဆွဟာဗဟ်တွေ သဘောပေါက်အောင် ကိုယ်တော်က ပြန်ရှင်းပြတော်မူတယ်။

»صحيح البخاري« (1/ 406 ت البغا):

»لقد رأيت فِي مَقَامِي هَذَا كُلَّ شَيْءٍ وُعِدْتُهُ، حَتَّى لَقَدْ رَأَيْتُ أُرِيدُ أَنْ آخُذَ قِطْفًا مِنَ الْجَنَّةِ، حِينَ رَأَيْتُمُونِي جَعَلْتُ أَتَقَدَّمُ، وَلَقَدْ رَأَيْتُ جَهَنَّمَ يَحْطِمُ بَعْضُهَا بَعْضًا، حِينَ رَأَيْتُمُونِي تَأَخَّرْتُ، وَرَأَيْتُ فِيهَا عَمْرَو بْنَ لُحَيٍّ، وَهُوَ الَّذِي سيب السوائب«(

ငါတမန်တော်သည် ကတိတော်ရရှိထားသည့်အရာအားလုံးကို ဒီနေရာကနေ မြင်ခဲ့တယ်။ လက်လှမ်း၍ ဂျန္နသ်ထဲက အခိုင်တစ်ခိုင် ယူဖို့တောင် တမန်တော်ရှေ့တိုး၍ လက်ရွှယ်လိုက်သေးတယ်။ ငရဲဘုံမှာ ခံစားနေရတဲ့သူကိုလည်း မြင်တယ်။

ဆိုလိုချင်တာက မိမိကျွန်ကို အလ္လာဟ်က ဘယ်လိုမဆို ပြသနိုင်ပါတယ်။ မိမိ သက်သေလက္ခဏာများကို အိပ်မက်ထဲမှာတစ်မျိုး၊ နှလုံးသားထဲမှာတစ်ဖုံ၊ အပြင်မှာ တစ်လှည့် အမျိုးမျိုးပြသပါတယ်။ ဝဟီလည်း ပုံစံအမျိုးမျိုးနဲ့ပေးပါတယ်။ အဲဒါတွေက စမ်းသပ်မှုတွေ ဖြစ်သွားတယ်။ တချို့က လက်ခံပြီး မုအ်မင်န်ဖြစ်သွားတယ်။ တချို့က ငြင်းဆန်ပြီး ကာဖိရ်ဖြစ်သွားတယ်။

ဒါပေမယ့် မေ့အ်ရာဂျ်ညမှာ ဖြစ်သွားတဲ့ ဖြစ်စဉ်ကတော့ အိပ်မက်မှာ ဖြစ်ကြောင်း ကျွန်တော်လက်ခံထားတဲ့ အကြောင်းအရင်း၊ အထောက်အထားများအပေါ် အခြေခံပြီး တင်ပြပေးလိုက်ပါတယ်။

လေ့လာတင်ပြသူ

Faisal Sultan Qasimi

13/2/2024